O-C

ပုံစံ-(မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ-၁၀၅၈ / ၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ မေ လ ၂၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးကျော်ဇော်ထွန်း

(ခ) အဘ အမည် ဦးညွန့်သန်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လသန(နိုင်) ၀၀၁၀၉၅

(ဃ) နေရပ်လိပ်စာ အမှတ်(၂၂၉)၊ မြဇရာလမ်း၊ (၂၉)ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Yangon Concrete Company Limited (ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်(၂၂၄)ရှိ မြေဧရိယာ ၂.၅ဧက (၁၀,၁၁၇.၁၅ စတုရန်းမီတာ)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၅၀၀၀.၇၈ သန်း (US$ ၂.၆၈ သန်း အပါအဝင် ကျပ်သန်းပေါင်း ငါးထောင့် နှင့် ခုနှစ်ဆယ့်ရှစ်သိန်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၄၈ / ၂၀၁၅(မနသ)
၂၀၁၅ ခုနှစ် မေလ ၂၉ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ဇက်မှုဇုန်(၁)၊ မြေကွက်အမှတ် (၂၂၄)ရှိ မြေဧရိယာ ၂.၅ဧက(၁၀,၁၁၇.၁၅ စတုရန်းမီတာ) တွင် Ready Mixed Concrete စက်ရုံ တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၅ခုနှစ် မေလ ၈ ရက်နေ့ တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်(Yangon Concrete Co., Ltd.) အား Ready Mixed Concrete စက်ရုံ တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၅၈/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ ရန်ကုန် ကွန်ကရစ် ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ခ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံ[illegible] တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် [illegible] ပါက်သည့် [illegible] သည့် နှစ်မှစ၍ တစ်ဆက်တည်း [illegible] နှစ်ကာလ [illegible]



Yangon Decision MIC new.doc

တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ ဝက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထား ရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှားချထားသူ ဦးစိုင်းအောင်ထွန်းနှင့် အငှားချထားခြင်းခံရသူ ဦးကျော်ဇော်ထွန်း တို့ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များအား ဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၈။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.)သည် ထုတ်လုပ်မှုနည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark၊ ကုန်ပစ္စည်း အမှတ်တံဆိပ်အမည်၊ အမှတ်အသား၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၉။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၀။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်(Yangon Concrete Co., Ltd.)သည် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၁။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်(Yangon Concrete Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအစဉ်များကို ချမှတ်ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး [illegible] လုပ်ထုံးလုပ်နည်း

များ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၂။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကို ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်(Yangon Concrete Co., Ltd.)သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၄။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ရုံးခန်း လိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၆။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်(Yangon Concrete Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက

ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သောနာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၃/ မ-၁၃၉၇ / ၂၀၁၅ (၇၁၈ဃ)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေ လ ၂၈ ရက်

ဖြန့်ဝေခြင်း

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
အလုပ်သမားဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးနှင့်စားသုံးသူရေးရာဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.)

Final File

| | |
|---|---|
| ကုမ္ပဏီအမည် | - ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ ကမ်းနားလမ်း၊ အမှတ်(၂၂၄)၊ ရှိ မြေ ၅.၄၃ဧက အနက် အသုံးချမြေဧရိယာ ၂.၅ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၅၀၀၀.၇၈ သန်း (US $ ၂.၆၈ သန်း အပါအဝင်) |
| အရင်းကြေကာလ | - ၆ နှစ် ၆ လ |
| IRR | - ၁၂.၁၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်/သန်း) | Benefit(ကျပ်/သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၁၅.၀၃ | - |
| ၅ | ဝင်ငွေခွန် | ၁၁၁၀.၈၂ | ၅၁၀.၇၂ |
| | ကုန်သွယ်လုပ်ငန်းခွန် | - | ၄၉၁၂.၄၈ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၅၃၀.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၄၀)ဦး |
| ၈ | CSR (၂ %) | - | ၁၀၇.၂၄ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၄၂.၈၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၂၃၆) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၁၃၂၅.၈၅ သန်း | ကျပ် ၇၂၀၄.၄၂ သန်း |
| | Cost : Benefit | ၁ : ၅ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလီမိတက်မှ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Yangon Concrete Co., Ltd. |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်ဇော်ထွန်း(အဘ-ဦးညွန့်သန်း) |
| ၂။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၃။ | လုပ်ငန်းတည်နေရာ မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ ကမ်းနားလမ်း၊ အမှတ်(၂၂၄)၊ ရှိ မြေ ၅.၄၃ဧက အနက် အသုံးချမြေဧရိယာ ၂.၅ဧက |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၂၀ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **- ကျပ် ၅၀၀၀.၇၈ သန်း (US$ ၂.၆၈ သန်း အပါအဝင်)** |
| | - ငွေပမာဏ | ကျပ် ၂၂၁၃.၁၀ သန်း (US$ ၀.၀၉ သန်း အပါအဝင်) |
| | - စက်ပစ္စည်းကိရိယာများ | ကျပ် ၂၅၁၀.၃၃ သန်း (US$ ၂.၅၉ သန်း ) |
| | - အဆောက်အဦ | ကျပ် ၂၅၀.၀၀ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | ကျပ် ၂၇.၃၅ သန်း |
| ၆။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၇။ | (၆)နှစ်မြောက်တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်း | - နောက်ဆက်တွဲဖြင့်တင်ပြထားပါသည် |
| ၈။ | (၆)နှစ်မြောက်တွင် ကုမ္ပဏီ၏ ဝင်ငွေ | - ကျပ် ၁၄,၇၃၇.၄၆ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၃,၉၇၁.၃၉ သန်း |
| | အသားတင်အမြတ် | - ကျပ် ၇၆၆.၀၇ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက် | |
| | ဝင်ငွေခွန် | - ကျပ် ၂၅၅.၃၆ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၇၀၁.၇၈ သန်း |
| ၁၀။ | အရင်းကြေကာလ | - ၆ နှစ် ၆ လ |

| | | |
|---|---|---|
| ၁၁။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၂.၁၂ % |
| ၁၂။ | ရောင်းချပုံနည်းစနစ် | - ပြည်တွင်းရောင်း ၁၀၀% |
| ၁၃။ | ဝန်ထမ်းအင်အားစုစုပေါင်း<br>ပြည်တွင်း<br>ပြည်ပ | - **၂၃၈ ဦး**<br>၂၃၆ ဦး (ပြည်တွင်းအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁,၁၀၀,၀၀၀ ဖြစ်ပါသည်။)<br>၂ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ ပုံသေလစာမှာ ကျပ် ၁,၁၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၁၄။ | CSR | - ၂% |
| ၁၅။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်း၊ မီးငြိမ်းသတ်ရေးလုပ်ငန်း စီမံချက်ရေးဆွဲ တင်ပြထားပါသည်။ |

နောက်ဆက်တွဲ

(၆)နှစ်မြောက်တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်း

| စဉ် | ပစ္စည်း အမျိုးအစား | ရေတွက်ပုံ | ထုတ်လုပ်မှု အရေအတွက် | ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁ | Ready Mixed Concrete G 40 | ကုဗမီတာ | ၁၃၆၈၈ | ၉၂၀၀၀ |
| ၂ | Ready Mixed Concrete G 35 | ကုဗမီတာ | ၁၉၁၆၃ | ၈၇၀၀၀ |
| ၃ | Ready Mixed Concrete G 30 | ကုဗမီတာ | ၆၂၉၆၄ | ၇၉၀၀၀ |
| ၄ | Ready Mixed Concrete G 25 | ကုဗမီတာ | ၆၈၄၃၉ | ၇၆၀၀၀ |
| ၅ | Pile (10"x10"x20') | ခု | ၅၄၇၅ | ၁၂၀၀၀၀ |
| ၆ | Pile (8"x8"x20') | ခု | ၅၄၇၅ | ၉၅၀၀၀ |
| ၇ | Pile (6"x6"x20') | ခု | ၅၄၇၅ | ၆၀၀၀၀ |
| ၈ | Concrete Block | ခု | ၄၁၀၆၃၆ | ၈၆ |
| ၉ | Drain Cover | ခု | ၂၄၆၃၈ | ၁၅၀၀ |
| ၁၀ | Fencing Column | ခု | ၁၆၄၂၅ | ၃၅၀၀ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/မ-၁၃၉၇/၂၀၁၅( ၆၁၀ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေ လ ၆ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလီမိတက်မှ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ ကမ်းနားလမ်း၊ အမှတ်(၂၂၄)ရှိ မြေဧရိယာ ၅.၄၃ဧကအနက် မြေဧရိယာ ၂.၅ဧက တွင် Ready Mixed Concrete စက်ရုံ တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်ဇော်ထွန်း (အဘ-ဦးညွန့်သန်း)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးစိုင်းအောင်ထွန်းနှင့် ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦများ ငှားရမ်းခြင်းစာချုပ်၊ အဆောက်အဦဓါတ်ပုံ၊ စက်ရုံ Layout Plan၊ လုပ်ငန်းတည်နေရာပြမြေပုံ၊ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် အမည်နှင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ် မိတ္တူတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၂.၅ဧက နှင့်ယင်းမြေပေါ်ရှိ (၆၀ပေx၁၂၀ပေ) အကျယ်ရှိ (၁)ထပ်အဆောက်အဦတစ်လုံးနှင့် (၈၀ပေx၄၀ပေ)အကျယ်ရှိ (၂)ထပ်အဆောက်အဦ တစ်လုံးတို့အား တစ်နှစ်လျှင် စုစုပေါင်း ငှားရမ်းခ ကျပ် ၂၀.၄၀ သန်းဖြင့် ငှားရမ်းမည်ဖြစ်ပြီး မြေငှားသက်တမ်းမှာ (၅)နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ ၂.၆၈ သန်း အပါအဝင် စုစုပေါင်းကျပ် ၅၀၀၀.၇၈သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ ကုန်ကြမ်းများ US $ ၂.၆၈ သန်း တန်ဖိုးကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တစ်ဖက်ပါအတိုင်း တင်ပြထားပါသည်-

(က) ငွေသား ကျပ် ၂၂၁၃.၁၀ သန်း (US $ ၀.၀၉ သန်း အပါအဝင် )

(ခ) စက်ပစ္စည်းကိရိယာ ကျပ် ၂၅၁၀.၃၃ သန်း (US $ ၂.၅၉ သန်း)

(ဂ) အဆောက်အဦ ကျပ် ၂၅၀.၀၀ သန်း

(ဃ) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း ကျပ် ၂၇.၃၅ သန်း

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၅၀၀၀.၇၈ သန်း(US $ ၂.၆၈သန်း အပါအဝင်)**

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှဝန်ထမ်း (၂၃၆)ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၂)ဦး စုစုပေါင်း(၂၃၈)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏လစာမှာ ကျပ်၉၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ်၁,၁၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှဝန်ထမ်းတစ်ဦး၏ ပုံသေလစာမှာ ကျပ်၁,၁၀၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းသည် Ready Mixed Concrete စက်ရုံ တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)၏ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | ရေတွက်ပုံ | ထုတ်လုပ်မှု အရေအတွက် | ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁ | Ready Mixed Concrete G 40 | ကုဗမီတာ | ၁၃၆၈၈ | ၉၂၀၀၀ |
| ၂ | Ready Mixed Concrete G 35 | ကုဗမီတာ | ၁၉၁၆၃ | ၈၇၀၀၀ |
| ၃ | Ready Mixed Concrete G 30 | ကုဗမီတာ | ၆၂၉၆၄ | ၇၉၀၀၀ |
| ၄ | Ready Mixed Concrete G 25 | ကုဗမီတာ | ၆၈၄၃၉ | ၇၆၀၀၀ |
| ၅ | Pile (10"x10"x20') | ခု | ၅၄၇၅ | ၁၂၀၀၀၀ |
| ၆ | Pile (8"x8"x20') | ခု | ၅၄၇၅ | ၉၅၀၀၀ |
| ၇ | Pile (6"x6"x20') | ခု | ၅၄၇၅ | ၆၀၀၀၀ |
| ၈ | Concrete Block | ခု | ၄၁၀၆၃၆ | ၈၆ |
| ၉ | Drain Cover | ခု | ၂၄၆၃၈ | ၁၅၀၀ |
| ၁၀ | Fencing Column | ခု | ၁၆၄၂၅ | ၃၅၀၀ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၁၄,၃၃၇.၄၆ သန်း

(ခ) အသုံးစရိတ် - ကျပ် ၁၃,၉၇၁.၃၉ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၇၆၆.၀၇ သန်း

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂၅၅.၃၆ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၇၀၁.၇၈ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၆နှစ် နှင့် ၆လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၂.၁၂% ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက မြို့နယ်ဒေသ အလုပ်အကိုင်အခွင့် အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေ ပါကြောင်း၊ အဆိုပြုလုပ်ငန်းအား ကိုယ်ပိုင်မြေကွက်ပေါ်တွင် လုပ်ကိုင်ခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိပါကြောင်းနှင့် ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၃၀ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၅/၂၀၁၄) မှ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(၁) စက်ရုံ ဆောက်လုပ်နေစဉ် ကာလအတွင်း ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် တည်ဆောက်မှု နည်းစနစ်၊ မိလ္လာအညစ်အကြေး စွန့်ပစ်သည့်

နည်းစနစ်၊ ရေဆိုးနှင့် အညစ်အကြေးများ ပြန်လည်သန့်စင်သည့် နည်းစနစ်၊ မီးဘေးအန္တရာယ်ကာကွယ်ရေး အတွက် အရေးပေါ် မီးသတ်ရန် ရေကန်များအား စနစ်တကျ ထည့်သွင်းပြီး စက်ရုံအတွင်း လေဝင်၊ လေထွက်စနစ် (Ventilation System) ကောင်းမွန်စေရေး အထူးတွက်ချက် တည်ဆောက်ရန် နှင့် အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်ပေါ်စေရေး အတွက် စက်ရုံစတင်လည်ပတ်ချိန်မှ ပိတ်သိမ်းချိန်အထိ ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် စက်ကိရိယာများနှင့် ကုန်ထုတ်လုပ်မှု နည်းပညာများကို အသုံးပြု ဆောင်ရွက်သွားရန်။

(၂) စက်ရုံများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်များအား အနီးရှိ မြစ်၊ ချောင်းများအတွင်းသို့ တိုက်ရိုက် မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော စံချိန်စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန်၊ စက်ရုံမှထွက်ရှိမည့် အမှုန်အမွှားများကြောင့် စက်ရုံဝန်ထမ်းများ၏ ရေရှည် ကျန်းမာရေးထိခိုက်မှု မဖြစ်စေရေးအတွက် ကာကွယ်ရေး အစီအစဉ်များနှင့် လုပ်ငန်းခွင် လုံခြုံရေး အစီအစဉ်များရေးဆွဲ၍ လက်တွေ့ အသုံးပြုဆောင်ရွက်သွားရန်နှင့် စွန့်ပစ်ပစ္စည်း ထွက်ရှိမှု လျော့နည်းစေရေး အတွက် လျှော့ချသည့် နည်းလမ်း (Reduce)၊ စွန့်ပစ်ပစ္စည်း အချို့အား ပြန်လည် အသုံးပြုမည့် နည်းလမ်း (Reuse) နှင့် ပြန်လည် အသုံးပြု၍ ရသည့် ပစ္စည်းများအား မူလပုံစံအတိုင်းဖြစ်စေ၊ အခြားပုံစံအသစ်တစ်မျိုးသို့ ဖြစ်စေ ပြန်လည်ပြုပြင် သုံးစွဲနိုင်သည့်နည်းလမ်း (Recycle)များ အသုံးပြု၍ နေ့စဉ်ထွက်ရှိသည့် စွန့်ပစ်ပစ္စည်း ပမာဏလျော့နည်းစေမည့် စီမံချက်များ ရေးဆွဲ၍ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ပြုလုပ်ပြီး အဆိုပါ ဆန်းစစ်တွေ့ရှိ ချက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းစေမည့် နည်းလမ်းများ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်များ ပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ထည့်သွင်း ရေးဆွဲ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင် အထည်ဖော် ဆောင်ရွက်ရန်။

(ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်မှ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲရန်အတွက် Lucky Bird Group of Co., သို့ အပ်နှံထားပြီး ဆောင်ရွက်နေပါကြောင်း တင်ပြထားပါသည်။) နောက်ဆက်တွဲ(ခ)

(ဂ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ လျှပ်စစ်သွယ်တန်း အသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ကြောင်း၊ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိကြောင်း၊ ကုန်ကြမ်းနှင့် ကုန်ချောဈေးနှုန်း တင်ပြထားမှု ဆီလျော်မှု ရှိကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီမျှမှုရှိပါကြောင်းနှင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်မှ စက်မှုဝန်ကြီး ဌာန၏ သဘောထားမှတ်ချက်အရ လျှပ်စစ်သွယ်တန်းအသုံးပြုမှုအား လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးမှုများ ပြုလုပ်ဖြစ်ကြောင်း၊ စက်စမ်းသပ် လည်ပတ်နိုင်ပါက ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ(ဂ)**

(ဃ) **ဆောက်လုပ်ရေးဝန်ကြီးဌာနမှ** ရန်ကုန်ကွန်ကရစ် ကုမ္ပဏီ လီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ ကမ်းနားလမ်း၊ အမှတ်(၂၂၄)တွင် Ready Mixed Concrete စက်ရုံ တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သဘောထား မှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဃ)**

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလီမိတက်အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် ၂၄-၄-၂၀၁၅ ရက်နေ့ရက်စွဲဖြင့် ငွေလက်ကျန် ၁၄၅,၆၃၆,၉၂၅ ကျပ် ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပုဂ္ဂလိက

စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိ မည်ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေ ကျပ် ၂၀ သိန်းအထက် ရရှိသော ဝန်ထမ်းများ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူဖြတ်တောက်၍ အခွန်ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၂။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများအား နေ့လည်စာ စီစဉ်ဆောင်ရွက်ပေးခြင်း၊ နေ့ထူးနေ့မြတ်များတွင် စက်ရုံ၌ ပျော်ပွဲရွှင်ပွဲများ၊ အားကစား ပြိုင်ပွဲများ ကျင်းပပေးခြင်း၊ ဝန်ထမ်းများ၏ သားသမီးများကို ကျောင်းစရိတ် ထောက်ပံ့ပေးခြင်း၊ စက်ရုံအနီးပတ်ဝန်းကျင်ရှိ စာသင်ကျောင်းများတွင် ကျောင်းအသုံးအဆောင်ပစ္စည်းများ လှူဒါန်း ပေးခြင်းနှင့် ဝန်ထမ်းများ၏ သာရေးနာရေး ကိစ္စရပ်များတွင် စက်ရုံ၏ လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) ရန်ပုံငွေမှ ထောက်ပံ့ပေးမည်ဖြစ်ကြောင်းနှင့် ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည် ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်ထရန်စဖော်မာ များဖြင့် ကုန်ထုတ်လုပ်မှု စဉ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြ ထားပါသည်။

၁၄။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၉ ရက်နေ့တွင် ကျင်းပသော (၂/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက် ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) ရန်ကုန်ကွန်ကရစ် ကုမ္ပဏီ လီမိတက် (Yangon Concrete Co., Ltd.)မှ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကို ၂၀၁၄ခုနှစ် ဧပြီလ ၁၀ရက်နေ့တွင် ကျင်းပပြု လုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၂/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

(ခ) ကော်မရှင် အစည်းအဝေးမှ "ရန်ကုန်ကွန်ကရစ် ကုမ္ပဏီ လီမိတက်မှ စက်ရုံတည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍ ခွင့်ပြုမိန့် ထုတ်ပေးရန်မူအားဖြင့် သဘောတူကြောင်းနှင့် လုပ်ငန်းလုပ်ကိုင်မည့် နေရာသစ် ရွေးချယ်ပြီး ပြန်လည်တင်ပြရန်"ဟု ဆုံးဖြတ်ခဲ့ပါသည်။

(ဂ) ယခုအခါ ကုမ္ပဏီမှ မြေနေရာ အခက်အခဲများကြောင့် ယခင်အဆိုပြုနေရာတွင် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်ပြန်လည်တင်ပြလာပါသည်။

(ဃ) အလားတူလုပ်ငန်းအား ၂၀၁၅ ခုနှစ် ဧပြီလ ၃ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် SG Pann Ayeyar Co., Ltd. အား အသင့်ရောစပ်ထားသော ကွန်ကရစ်များကို ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဝန်ဆောင်မှုပေးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုခဲ့ပါသည်။

၁၈။ သို့ဖြစ်ပါ၍ ရန်ကုန်ကွန်ကရစ် ကုမ္ပဏီ လီမိတက်မှ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fencing Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးအစိုးရအဖွဲ့ စာအမှတ် ၃၆၂...... ရက်စွဲ ၅/၂/၁၄...... ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီ လ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀. ၁. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၃၉၇/၂၀၁၄(၁၁၄-ဆ)

၁။ Yangon Concrete Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ ကမ်းနားလမ်း၊ အမှတ်(၂၂၄)တွင် Ready Mixed Concrete စက်ရုံတည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့်ညှိနှိုင်း အကြောင်းကြားလာခြင်းအပေါ် ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၁၈)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းအား ကိုယ်ပိုင်မြေကွက်ပေါ်တွင် လုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်၊

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိပါ။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၃၀. ၁. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် ( ၇ ) အရ Yangon Concrete Co., Ltd.၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
Yangon Concrete Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D / 2014 / Lesson 5 ., 15

နောက်ဆက်တွဲ(ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/(၁၃၁၆ /၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Yangon Concrete Co.,Ltd.မှ Ready Mixed Concrete စက်ရုံ တည်ဆောက်၍ Ready Mixed Concrete၊ Pile ၊ Concrete Block၊ Drain Cover နှင့် Fence Column များထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၁-၂၀၁၄ ရက်စွဲပါစာအမှတ်-ရက - ၆ (က) / မ - ၁၃၉၇ / ၂၀၁၃ (၃၁၄-ခ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Yangon Concrete Co., Ltd. မှ ရာနှုန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ ကမ်းနားလမ်း၊ အမှတ်(၂၂၄)တွင် Ready Mixed Concrete စက်ရုံတည်ဆောက်၍ Ready Mixed Concrete၊ Pile၊ Concrete Block၊ Drain Cover နှင့် Fence Column များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုလွှာတွင် ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd) အနေဖြင့် စုစုပေါင်းရင်းနှီးမြှုပ်နှံငွေ ကျပ်(၅၀၀.၀၀)သန်း ထည့်ဝင်၍ နှစ်(၃၀) ရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ကြောင်း၊ စက်ရုံနှင့်ဆက်စပ်အဆောက်အဦများ တည်ဆောက်ချိန်ကာလ(၁)နှစ်ကြာမြင့်မည်ဖြစ်ပြီး ထုတ်ကုန်များအားလုံး ပြည်တွင်း၌ ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ကြောင်း၊ အဆိုပြုလွှာနှင့်အတူ မြေနှင့်အဆောက်အဦ အရောင်းအဝယ်စာချုပ်၊ စက်ရုံနှင့်ဆက်စပ် အဆောက်အဦများ ဆောက်လုပ်မည့်ပုံကြမ်းနှင့်မြေနေရာ၊ စက်ပစ္စည်းနမူနာပုံစံများကို ဖော်ပြထားသော်လည်း ထုတ်လုပ်မှုလုပ်ငန်းစဉ်၊ မီးဘေးကာကွယ်ရေးစီမံချက်နှင့် အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် စနစ်တကျထိန်းသိမ်းဆောင်ရွက်မည့် အစီအစဉ်နှင့် စီမံချက်များအား အသေးစိတ်ထည့်သွင်းဖော်ပြမထားသည်ကို စိစစ်တွေ့ရှိရပါ သည်။

၃။ အဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများနှင့် စွန့်ပစ်ပစ္စည်းများ၊ ကုန်ထုတ်လုပ်မှုလုပ်ငန်းစဉ်နှင့်စက်ရုံတည်ဆောက်ခြင်းလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်အပေါ် ထိခိုက်နိုင်မှု များအား အောက်ပါအတိုင်း တွေ့ရှိရပါသည်-

(က) စက်ရုံတည်ဆောက်ဆဲကာလတွင် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ မြေယာပြုပြင်၊ မြေတူးခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်မြေစာပုံများနှင့် စွန့်ပစ်ရေဆိုးများ၊ ဆောက်လုပ်ရေး လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင် မြေထု၊ လေထုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ခ) အဆိုပြုလွှာတွင် ထုတ်လုပ်မှုလုပ်ငန်းစဉ် အဆင့်ဆင့်နှင့် ပတ်သက်၍ ဖော်ပြထားမှုမရှိသော်လည်း ကွန်ကရစ်ဖျော်ရာတွင် အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများဖြစ်သည့် ဘိလပ်မြေ၊ မြစ်သဲ၊ ကျောက်များနှင့် Concrete Admixture များရောနှောဖျော်စပ်ခြင်း၊ Concrete Block၊ Drain Cover နှင့် Fence Column များ အမြောက်အမြားထုတ်လုပ်ခြင်း၊ ကုန်ကြမ်းပစ္စည်းများနှင့် စက်ရုံမှ ထွက်ရှိလာမည့် ထုတ်ကုန်ပစ္စည်းများ သယ်ယူပို့ဆောင်ခြင်းနှင့် အဆိုပါ ကုန်ကြမ်းပစ္စည်းများစုပုံရာမှ ထွက်ရှိလာမည့် အမှုန်အမွှားနှင့် စွန့်ပစ်ရေဆိုးများကြောင့် ပတ်ဝန်းကျင်လေထုနှင့် ရေထု ညစ်ညမ်းနိုင်ခြင်း၊ စွန့်ပစ်အကျိုးအပဲ့များအား ပြန်လည်အသုံးမပြုဘဲ စနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင် မြေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

၄။ သို့ဖြစ်ပါ၍ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်နိုင်မှုရှိ-မရှိနှင့် စပ်လျဉ်းသည့် သဘောထားမှတ်ချက်အား အောက်ဖော်ပြပါ အတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) စက်ရုံဆောက်လုပ်နေစဉ်ကာလအတွင်း ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် တည်ဆောက်မှုနည်းစနစ်၊ မိလ္လာအညစ်အကြေး စွန့်ပစ်သည့်နည်းစနစ်၊ ရေဆိုးနှင့် အညစ်အကြေးများ ပြန်လည်သန့်စင်သည့်နည်းစနစ်၊ မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက် အရေးပေါ်မီးသတ်ရန် ရေကန်များအား စနစ်တကျထည့်သွင်းပြီး စက်ရုံအတွင်း လေဝင်၊ လေထွက်စနစ် (Ventilation System) ကောင်းမွန်စေရေးအထူး တွက်ချက်တည်ဆောက်ရန်နှင့် အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ် ပေါ်စေရေးအတွက် စက်ရုံစတင်လည်ပတ်ချိန်မှ ပိတ်သိမ်းချိန်အထိ ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် စက်ကိရိယာများနှင့် ကုန်ထုတ်လုပ်မှုနည်းပညာများကို အသုံးပြုဆောင်ရွက်သွားရန်၊

(ခ) စက်ရုံများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်များအား အနီးရှိ မြစ်၊ ချောင်းများအတွင်းသို့ တိုက်ရိုက်မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော စံချိန်စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန်၊ စက်ရုံမှ ထွက်ရှိမည့် အမှုန်အမွှားများကြောင့် စက်ရုံဝန်ထမ်းများ၏ ရေရှည် ကျန်းမာရေး ထိခိုက်မှု မဖြစ်စေရေးအတွက် ကာကွယ်ရေးအစီအစဉ်များနှင့် လုပ်ငန်းခွင်လုံခြုံရေးအစီအစဉ်များရေးဆွဲ၍ လက်တွေ့အသုံးပြုဆောင်ရွက်သွားရန်နှင့် စွန့်ပစ်ပစ္စည်းထွက်ရှိမှု လျော့နည်းစေရေးအတွက် လျှော့ချသည့် နည်းလမ်း (Reduce)၊ စွန့်ပစ်ပစ္စည်းအချို့အား ပြန်လည်အသုံးပြုမည့် နည်းလမ်း (Reuse) နှင့် ပြန်လည်အသုံးပြု၍ရသည့် ပစ္စည်းများအား မူလပုံစံအတိုင်းဖြစ်စေ၊ အခြားပုံစံအသစ်တစ်မျိုးသို့ဖြစ်စေ ပြန်လည်ပြုပြင် သုံးစွဲနိုင်သည့် နည်းလမ်း (Recycle) များ အသုံးပြု၍ နေ့စဉ်ထွက်ရှိသည့် စွန့်ပစ်ပစ္စည်းပမာဏ လျော့နည်းစေမည့် စီမံချက်များရေးဆွဲ၍ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Yangon Concrete Co., Ltd. သို့ ရာနှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန် (၁)၊ ကမ်းနားလမ်း၊ အမှတ်(၂၂၄)တွင် Ready Mixed Concrete စက်ရုံတည်ဆောက်၍ Ready Mixed Concrete၊ Pile၊ Concrete Block၊ Drain Cover နှင့် Fence Column များ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) စက်ရုံဆောက်လုပ်နေစဉ်ကာလအတွင်း ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် တည်ဆောက်မှုနည်းစနစ်၊ မိလ္လာအညစ်အကြေး စွန့်ပစ်သည့် နည်းစနစ်၊ ရေဆိုးနှင့်အညစ်အကြေးများ ပြန်လည်သန့်စင်သည့်နည်းစနစ်၊ မီးဘေးအန္တရာယ် ကာကွယ်ရေးအတွက် အရေးပေါ်မီးသတ်ရန် ရေကန်များအား စနစ်တကျထည့်သွင်းပြီး စက်ရုံအတွင်း လေဝင်၊ လေထွက်စနစ် (Ventilation System) ကောင်းမွန်စေရေးအထူး တွက်ချက်တည်ဆောက်ရန်နှင့် အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ် ပေါ်စေရေးအတွက် စက်ရုံစတင်လည်ပတ်ချိန်မှ ပိတ်သိမ်းချိန်အထိ ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် စက်ကိရိယာများနှင့် ကုန်ထုတ်လုပ်မှုနည်းပညာများကို အသုံးပြုဆောင်ရွက်သွားရန်၊

(ခ) စက်ရုံများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်များအား အနီးရှိ မြစ်၊ ချောင်းများအတွင်းသို့ တိုက်ရိုက်မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော စံချိန်စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှစွန့်ပစ်ရန်၊ စက်ရုံမှထွက်ရှိမည့် အမှုန်အမွှားများကြောင့် စက်ရုံဝန်ထမ်းများ၏ ရေရှည်ကျန်းမာရေး ထိခိုက်မှု မဖြစ်စေရေးအတွက် ကာကွယ်ရေးအစီအစဉ်များနှင့် လုပ်ငန်းခွင် လုံခြုံရေး အစီအစဉ်များရေးဆွဲ၍ လက်တွေ့အသုံးပြုဆောင်ရွက်သွားရန်နှင့် စွန့်ပစ်ပစ္စည်းထွက်ရှိမှု လျော့နည်းစေရေးအတွက် လျှော့ချသည့် နည်းလမ်း (Reduce)၊ စွန့်ပစ်ပစ္စည်းအချို့အား ပြန်လည်အသုံးပြုမည့် နည်းလမ်း (Reuse) နှင့် ပြန်လည်အသုံးပြု၍ရသည့် ပစ္စည်းများအား မူလပုံစံအတိုင်း ဖြစ်စေ၊ အခြားပုံစံအသစ်တစ်မျိုးသို့ဖြစ်စေ ပြန်လည်ပြုပြင်သုံးစွဲနိုင်သည့် နည်းလမ်း (Recycle) များ အသုံးပြု၍ နေ့စဉ်ထွက်ရှိသည့် စွန့်ပစ်ပစ္စည်း ပမာဏ လျော့နည်းစေမည့် စီမံချက်များရေးဆွဲ၍ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ပြုလုပ်ပြီး အဆိုပါ ဆန်းစစ်တွေ့ရှိချက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းစေမည့် နည်းလမ်းများ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်များပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ထည့်သွင်းရေးဆွဲ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

၇၊၄၊၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ညွန့် ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

စက်မှုဝန်ကြီးဌာန

နောက်ဆက်တွဲ(ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

ဂ-၁၆၈
18/2

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၃-၂၀၁၄(၇၁၈၆)
ရက် စွဲ၊ ၂၀၁၄ ခုနှစ် ဖေဖော်ဝါရီလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀.၁.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-ဖ(က)/မ-၁၃၉၇/၂၀၁၄(၁၁၄-ဈ)

၁။ Yangon Concrete Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ ကမ်းနားလမ်း၊ အမှတ်(၂၂၄)တွင် Ready Mixed Concrete စက်ရုံတည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ခ) စက်စမ်းသပ်လည်ပတ်နိုင်ပါက ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိပါသည်။

(ဃ) ကုန်ကြမ်းနှင့် ကုန်ချောဈေးနှုန်း တင်ပြထားမှု ဆီလျော်မှုရှိပါသည်။

(င) နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီမျှမှုရှိပါသည်။

၃။ သို့ပါ၍ Yangon Concrete Co.,Ltd. မှ Ready Mixed Concrete စက်ရုံတည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column တို့ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်

တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

နောက်ဆက်တွဲ(ဃ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

ဆောက်လုပ်ရေးဝန်ကြီးဌာန
စာအမှတ်-----
ရက်စွဲ-------
ဝန်ကြီးရုံး

စာအမှတ်၊ ၂၆ / ခွဲ - ၃ / ၂၀၁၄ (စီ ၁၂၉၃ )
ရက် စွဲ၊ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ( ၁၃ )ရက်နေ့စွဲပါ စာအမှတ်၊ ရက - ၆ (က)/မ - ၁၃၉၇ / ၂၀၁၄ (၃၄၈ -ခ)

Yangon Concrete Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန် (၁)၊ကမ်းနားလမ်း၊အမှတ်(၂၂၄)တွင် Ready Mixed Concrete စက်ရုံတည်ဆောက်၍ Ready Mixed Concrete,Pile, Concrete Block , Drain Cover နှင့် Fence Column များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် တောင်းခံလာခြင်းအပေါ် ဤဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
အောင်ထွန်း ၊ ရုံးအဖွဲ့မှူး

မိတ္တူကို

ဦးဆောင်ညွှန်ကြားရေးမှူး ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

Yangon Concrete company limited

# Yangon Concrete Company Limited

No.(224) , Kannar Road, Dagon Seikeen Township , Yangon. Ph:09-5110642

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂) နေပြည်တော်

ရက်စွဲ ။ ၂၀၁၄ခုနှစ် ၊ ဧပြီလ ( ၁ )ရက်

အကြောင်းအရာ ။ ။ **အဆိုပြုလွှာနှင့် စပ်လျဉ်း၍ ပြင်ဆင်ချက်များ ပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Co., Ltd.) သည် ကော်မရှင်မှ အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လိုအပ်သည်များ ပြင်ဆင်တင်ပြရန် အကြောင်းကြားခဲ့ခြင်းကို မြေငှားစာချုပ် ချုပ်ဆိုရန်အတွက် ဆောင်ရွက်နေခြင်း ၊ တွက်ချက်မှုများ ပြင်ဆင်နေခြင်းတို့ကြောင့် ယနေ့ (၁.၄.၂၀၁၄) မှ အဆိုပြုလွှာကို ပြန်လည်တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ကျော်ဇော်ထွန်း
ဒါရိုက်တာ
ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်

Yangon Concrete company limited

**Yangon Concrete Company Limited**

No.(224) , Kannar Road, Dagon Seikeen Township , Yangon. Ph:09-5110642

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂) နေပြည်တော်

ရက်စွဲ ။ ၂၀၁၄ခုနှစ် ၊ ဧပြီလ ( ၇ )ရက်

အကြောင်းအရာ ။ ။ **စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ ပြင်ဆင်တင်ပြခြင်း**

ကျွန်တော်များ ရန်ကုန် ကွန်ကရစ် ကုမ္ပဏီလီမိတက်၏ Ready Mixed Concrete စက်ရုံ တည်ထောင်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column ကို ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးမှုများပြုလုပ်ပါမည်။

(ခ) စက်စမ်းသပ်လည်ပတ်နိုင်ပါက ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ကျော်ဇော်ထွန်း
ဒါရိုက်တာ
ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက်

Yangon Concrete company limited

# Yangon Concrete Company Limited

No.(224) , Kannar Road, Dagon Seikeen Township , Yangon. Ph:09-5110642

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂) နေပြည်တော်၊

နေ့စွဲ (၃၀ )ရက် (ဒီဇင်ဘာ) လ ၊ ၂၀၁၃

**အကြောင်းအရာ။** ။ **ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလိမိတက်၏ Ready Mixed Concrete စက်ရုံ တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column တို့ကို ပြန်ဖြူးရောင်းချခြင်းလုပ်ငန်း အဆိုပြု ချက် နှင့် ပတ်သက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အဆိုပြုချက်စိစစ် ရေးအဖွဲ့မှ စိစစ်၍ပြင်ဆင်ရန် အကြောင်းကြားထားသည့် အချက်များကို ပြင်ဆင်ပြီး ပြန်လည်တင်ပြခြင်း ဖြစ်ပါသည်။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄.၁.၂၀၁၄) ရက်နေ့တွင် ကျင်းပသော အဆိုပြုစိစစ်ရေးအဖွဲ့ (၂/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးဆွေးနွေးမှုအရ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလိမိတက်သို့ ရည်ညွှန်းစာအမှတ် ရက-၆(က)/မ-၁၃၉၇/၂၀၁၄ (၅၇၃-က) ရက်စွဲ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ (၂၀) ရက်ဖြင့် ပေးပို့လာသော ဆောင်ရွက်ပြီး ပြန်လည်တင်ပြရန် အကြောင်းကြားစာပါ အချက်အလက်များကို ဆောင်ရွက်ပြီးဖြစ်၍ ဖြည့်စွက်ပြင်ဆင်ပြီးဖြစ်သည့် အဆိုပြုချက်ကို ပြန်လည်ပေးပို့ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ကျော်ဇော်ထွန်း

ဒါရိုက်တာ

ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလိမိတက်

Yangon Concrete company limited

# Yangon Concrete Company Limited

No.(224), Kannar Road, Dagon Seikeen Township, Yangon. Ph:09-5110642

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂) နေပြည်တော်၊

နေ့စွဲ (၃၀ )ရက် (ဒီဇင်ဘာ) လ ၊ ၂၀၁၃

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြုချက်များ ပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလီမိတက် (Yangon Concrete Company Limited) သည် အမှတ် ၂၂၄ ၊ ကမ်းနားလမ်း ၊ စက်မှုဇုန် ( ၁ ) ဒဂုံဆိပ်ကမ်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီးရှိ ၅၄.၃ ဧက ရှိသော မြေကွက်ပေါ်တွင် ဥပဒေနှင့်အညီ Ready Mixed Concrete စက်ရုံကို တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column တို့ကို ထုတ်လုပ် ဖြန့်ဖြူး ရောင်းချသွားရန် ရည်ရွယ်၍ ပြည်တောင်စုသမ္မတ မြန်မာနိုင်ငံတော် ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ကို အဆိုပြုလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာများ ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ကျော်ဇော်ထွန်း

ဒါရိုက်တာ

ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလီမိတက်

Yangon Concrete company limited

# Yangon Concrete Company Limited

No.(224) , Kannar Road, Dagon Seikeen Township , Yangon. Ph:09-5110642

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂) နေပြည်တော်၊

နေ့စွဲ (၃၀ )ရက် (ဒီဇင်ဘာ) လ ၊ ၂၀၁၃

**အကြောင်းအရာ။ ။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အကျဉ်းချုပ်တင်ပြချက်။**

ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Company Limited) သည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားပြီး အမှတ် ၂၂၄၊ ကမ်းနားလမ်း ၊ စက်မှုဇုန်(၁)၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ရုံးခန်းဖွင့်လှစ်ထားပါသည်။ ၎င်းလိပ်စာပါ မြေဧရိယာ ၅.၄၃ ဧကပေါ်တွင် ပထမအဆင့် ဧရိယာ ၂.၅ ဧကပေါ်တွင် Ready Mixed Concrete စက်ရုံကို တည်ဆောက်၍ Ready Mixed Concrete, Pile, Concrete Block, Drain Cover နှင့် Fence Column တို့ကို ထုတ်လုပ် ဖြန့်ဖြူးရောင်းချသွားရန်ဖြစ်ပါသည်။ အဆိုပါလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ရှည်ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သွားရန် ဖြစ်ပါသည်။

လုပ်ငန်းအစီအစဉ်မှာ ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် Ready Mixed Concrete စက်ရုံမှ ထုတ်လုပ်သော ထုတ်ကုန်များကို အဓိကအားဖြင့် သီလဝါအထူးစက်မှုဇုန် တန်ဖိုးနည်းအိမ်ယာ ဆောက်လုပ်ရေး လုပ်ငန်းများနှင့် ရန်ကုန်ဧရိယာအတွင်း ဖြန့်ဖြူးရန် ရည်ရွယ်ပါသည်။ အရည်အသွေးမြင့် ထုတ်ကုန်များ ဖြစ်ရန် အတွက် ဓါတ်ခွဲစမ်းသပ်ခြင်း၊ အရည်အသွေးထိန်းသိမ်းခြင်းများပြုလုပ်နိုင်ရန် ခေတ်မှီ Laboratory Equipment များကို အသုံးပြုသွားမည်ဖြစ်ပါသည်။

ရင်းနှီးမြှုပ်နှံမှုစုစုပေါင်းပမာဏမှာ ကျပ်သန်းပေါင်း၀ါးထောင်ဖြစ်ပါသည်။ ၎င်းတို့အနက်ကျပ်သန်းပေါင်း နှစ်ထောင့်ငါးရာခန့်မှာ နိုင်ငံခြားမှတင်သွင်းရမည့် စက်ပစ္စည်းများဖြစ်ပြီး ကုန်ကြမ်းအများစု (၉၀ ရာခိုင်နှုန်း) ခန့်မှာ ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။

Yangon Concrete company limited

# Yangon Concrete Company Limited

No.(224) , Kannar Road, Dagon Seikeen Township , Yangon. Ph:09-5110642

သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂) နေပြည်တော်၊

နေ့စွဲ (၃၀ )ရက် (ဒီဇင်ဘာ) လ ၊ ၂၀၁၃

**အကြောင်းအရာ။ ။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁) ပုဒ်မ (၂၀) အရ အခွန်ဆိုင်ရာ တင်ပြချက်။**

ရန်ကုန်ကွန်ကရစ်ကုမ္ပဏီလီမိတက် (Yangon Concrete Company Limited) သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံခွင့်ရရှိပါက ယင်းဥပဒေ အခန်း(၁၁) ပုဒ်မ (၂၀) ပါ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခွင့်ပြုပေးပါရန်နှင့် ကုန်ထုတ်လုပ်မှုလုပ်ငန်းမှ ရရှိသော အမြတ်ငွေများကို ပြန်လည်ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည်ဖြစ်ပါ၍ ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန် သက်သာခွင့်ပြုရန်နှင့် စီးပွားဖြစ်စတင်သော တစ်ဆက်တည်း ၅ နှစ်အတွင်း ဝင်ငွေခွန်သက်သာခွင့်ပြုရန် ဘဏ္ဍာရေးနှင့် အခွန်ဦးစီး ဌာနသို့ လျှောက်ထားခွင့် ပြုနိုင်ပါရန် ကြိုတင် လျှောက်ထားအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ကျော်ဇော်ထွန်း

ဒါရိုက်တာ

ရန်ကုန်ကွန်ကရစ် ကုမ္ပဏီလီမိတက်

